(c) မည်သည့်ပုံစံဖြင့်မဆို "ပါဝင်သည်"ဟူသော စကားလုံးသည် ကန့်သတ်ချက်စကားလုံး မဟုတ်ပါ။

(f) if a word or expression is defined, another grammatical form of that word or expression has a corresponding meaning;

(စ) အကယ်၍ စကားလုံးတစ်လုံး သို့ မဟုတ် စကားရပ်တစ်ခုကို အနက်အဓိပ္ပာယ်ဖွင့်ဆိုပါ က ယင်းစကားလုံး သို့မဟုတ် စကားရပ်၏ အခြားသော သဒ္ဒါဆိုင်ရာပုံစံသည် ယင်းကို ကိုယ်စားပြုသည်။

(g) if the day on which any act, matter or thing is to be done under this document is not a business day, the act, matter or thing must be done on the next business day;

(ဆ) အကယ်၍ ဤသဘောတူစာချုပ်အရ မည်သည့်အမှုကိစ္စ သို့မဟုတ် အ ရာကို ဆောင်ရွက်ရမည့် နေ့သည် ရုံးဖွင့်ရက် မဟုတ်ပါက အဆိုပါ အမှုကိစ္စ သို့ မဟုတ် အရာကို လာမည့် ရုံးဖွင့်ရက်တွင် ဆောင်ရွက်ရမည်။

(h) any agreement by any party not to do or omit to do something is deemed to include an obligation not to allow or permit some other person to do or omit to do that same thing;

(ဇ) စာချုပ်ဝင်တစ်ဖက်က ကိစ္စတစ်ခုကို မဆောင်ရွက်ရန် သို့မဟုတ် ချန်လှပ်ခဲ့ရန် သဘောတူညီခြင်းသည် တစ်ဖက်စာချုပ်ဝင်အားလည်း ထိုကိစ္စကို ဆောင်ရွက်ရန် ခွင့်မပြုခြင်း သို့မဟုတ် ချန်လှပ်စေခြင်းပင်ဖြစ်သည်ဟု မှတ်ယူရမည်။

(i) any obligation of any person arising from this document may be performed by any other person;

(ဈ) ဤသဘောစာချုပ်အရ ပုဂ္ဂိုလ်တစ်ဦး၏ မည်သည့်တာဝန်ကိုမဆို အခြားပုဂ္ဂိုလ်တစ်ဦးဦးက ဆောင်ရွက်ခွင့် ရှိစေရမည်။

(j) an obligation or a liability assumed by, or a right conferred on, two or more persons binds or benefits them jointly and severally;

(ည) နှစ်ဦး သို့မဟုတ် နှစ်ဦးထက်ပိုသည့် ပုဂ္ဂိုလ်များသည် ၎င်းတို့ ခံယူရမည့် ဝတ္တရား သို့မဟုတ် တာဝန်ခံမှု သို့မဟုတ် အခွင့်အရေးကို ပူးတွဲ၍သော်လည်းကောင်း ၊ သီးခြားစီသော်လည်းကောင်း ခံယူရမည် သို့မဟုတ် ခံစားရမည်။

(k) any reference to the "LeasedLand" includes any part of it;

(ဋ) "ငှားရမ်းထားသည့်မြေ" ကို ရည်ညွှန်းသုံးစွဲမှုမှန်သမျှတွင် ယင်း၏ မည်သည့်အစိတ်အပိုင်းမဆို ပါဝင်သည်။

(l) any reference to "USD" or "$" is to the lawful currency for the time being of the United States of America;

(ဌ) "USD" သို့မဟုတ် "$" ကို ရည်ညွှန်းသုံးစွဲမှုမှန်သမျှသည် အမေရိကန်ပြည်ထောင်စု၏ လက်ရှိတွင် တရားဝင်သည့် ငွေကြေးဖြစ်သည်။

(m) any reference to "MMK" or "kyats" is to the lawful currency for the time being of Myanmar;

(ဃ) "MMK" သို့မဟုတ် "kyats" ကို ရည်ညွှန်းသုံးစွဲမှုမှန်သမျှသည် မြန်မာနိုင်ငံ၏ လက်ရှိတွင် တရားဝင်သည့် ငွေကြေးဖြစ်သည်။

(n) where a party's consent, permission or acceptance is required for any matter or thing, that party may in respect of such consent, permission or acceptance give or withhold it or give subject to conditions in its absolute discretion; and

(ဏ) မည်သည့်အမှု သို့မဟုတ် ကိစ္စရပ်တစ်ခုအတွက်မဆို စာချုပ်ဝင်တစ်ဖက်၏သဘော တူညီ ချက် ၊ခွင့်ပြုချက် သို့မဟုတ် လက်ခံမှုလိုအပ်သည့် မည်သည့်အမှုသို့မဟုတ်ကိစ္စရပ်တွင် ယင်းစာချုပ်ဝင်သည့် အဆိုပါးသဘောတူညီချက် ၊ ခွင့်ပြုချက် သို့ မဟုတ် လက်ခံမှုကို ပေးလိုက ပေးနိုင်သည်သို့မဟုတ် မပေးပဲလည်း ထားနိုင်သည် သို့မဟုတ် ယင်း၏ ကိုယ်ပိုင်ဆုံးဖြတ်ချက်အရ စည်းကမ်းချက်သတ်မှတ်၍ ပေးနိုင်သည်။

(o) a reference to a specific statute includes any statutory extension or modification, amendment or re-enactment of that statute and any regulations or orders made under that statute.

(တ) ဥပဒေပြုအာဏာပိုင်အဖွဲ့က ပြဋ္ဌာန်းသည့် ဥပဒေတစ်ခုကို ရည်ညွှန်းကိုးကားလျှင် ယင်းပြဋ္ဌာန်း ဥပဒေကို ဖြည့်စွက်မှုသို့မဟုတ် မွမ်းမံမှု ၊ ပြင်ဆင်မှု သို့မဟုတ် ပြန်လည်ပြဋ္ဌာန်းမှုနှင့် ယင်းပြဋ္ဌာန်းဥပဒေအရ ချမှတ်သည့် မည်သည့် စည်းမျဉ်းစည်းကမ်းများ သို့မဟုတ် အမိန့်မဆို ပါဝင်သည်။

## 2. Conditions Precedent

## ၂။ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များ

### Coming into effect of Agreement

### သဘောတူစာချုပ်စတင်အကျိုးသက်ရောက်ခြင်း

2.1 This clause2 and clauses 4, 12, 13, 14, 15 and 17come into effect on the date of this document. The remainder of this document comes into effect on the Commencement Date.

၂.၁ ဤအပိုဒ် ၂ နှင့် အပိုဒ် ၄ ၊ ၁၂ ၊ ၁၃ ၊ ၁၄ ၊ ၁၅ နှင့် ၁၇ တို့သည် စာချုပ်လက်မှတ်ရေးထိုးသည့် နေ့တွင် စတင်အကျိုး သက်ရောက်သည်။ ဤစာချုပ်ပါကျန်အပိုဒ်များသည် စတင်အကျိုးသက်ရောက်သည့် နေ့တွင် အကျိုးသက်ရောက်သည်။

### Satisfaction of Conditions Precedent

### ကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို စိတ်ကျေနပ်မှုရှိခြင်း

2.2 Each party must:

၂.၂ စာချုပ်ဝင်များသည်-

(a) use all reasonable endeavours (other than waiver) at its cost to ensure that each of the Conditions Precedent that are nominated in clause2.3 or 2.4 as being its responsibility are satisfied on conditions acceptable to the other parties within the period specified for satisfaction of the relevant Condition Precedent in clause2.3 or 2.4, or by such other date as the parties agree (in writing);

(က) အပိုဒ် ၂.၃ သို့မဟုတ် ၂.၄ တွင် တာဝန်အဖြစ် ဖော်ပြထားသည့် ကြိုတင်သတ်မှတ်ထားသည့် စ ည်းကမ်းသတ်မှတ်ချက်အား အပိုဒ် ၂.၃ သို့မဟုတ် အပိုဒ် ၂.၄ တွင် ဖော်ပြထားသည့် သက်ဆိုင်ရာကြိုတင်စည်းကမ်းသတ်မှတ်ချက်များ စိတ်ကျေနပ်မှုရှိရမည့် ကာလအတွင်း သို့မဟုတ် စာချုပ်ဝင်များအကြား ( စာဖြင့် ရေးသား၍) သဘောတူညီသည့် ရက်စွဲအတွင်း အခြားစာချုပ်ဝင်များက ကျေနပ်လက်ခံလာနိုင်စေရန် မိမိကုန်ကျစရိတ်ဖြင့် (စွန့်လွှတ်သည်မှလွဲ၍) ထိုက်သင့်သည့် ကြိုးပမ်းအားထုတ်မှုများ အားလုံးကို ကို ပြုလုပ်ရမည်။

(b) keep the other parties informed of its progress in obtaining satisfaction of any Condition Precedent it is required to obtain and any circumstance that may result in any of those conditions not being satisfied in accordance with its terms; and

(ခ) မိမိစိတ်ကျေနပ်မှုရှိရန် လိုအပ်သည့် မ ည်သည့်ကြိုတင်စည်းကမ်းသတ်မှတ်ချက်တစ်ရပ်နှင့် ပတ်သက်၍သော်လည်းကောင်း ၊ အဆိုပါ အခြေအနေတစ်ရပ်ရပ်ကို စိတ်ကျေနပ်ဖွယ် မဖြစ်စေမည့်မည်သည့်အခြေအနေတစ်ရပ်နှင့် ပတ်သက်၍ သော်လည်းကောင်း တစ်ဖက်စာချုပ်ဝင်အား အချိန်နှင့် တပြေးညီ အသိပေးအကြောင်းကြားရမည်။

(c) within seven days after receiving notice from another party that a Condition Precedent which is the responsibility of that other party has been satisfied, give to each other party notice of whether the conditions for the satisfaction of the relevant Condition Precedent (if any) are acceptable, or unacceptable.

(ဂ) တစ်ဖက်စာချုပ်ဝင်၏ တာဝန်ဖြစ်သည့် ကြိုတင်စည်းကမ်းသတ်မှတ်ချက်တစ်ရပ်ကို စိတ်ကျေနပ်ကြောင်း အကြောင်းကြားစာကို ရရှိပြီး (၇) ရက်အတွင်း သက်ဆိုင်ရာ ကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို (အ ကယ်၍ရှိပါက) စိတ်ကျေနပ်ခြင်းသည် လက်ခံနိုင်ဖွယ်ရာ ဖြစ်မဖြစ်ကို အပြန်အလှန် အကြောင်းကြားရမည်။

**Conditions and responsibilities**

**စည်းမျဉ်းစည်းကမ်းများနှင့် တာဝန်များ**

2.3 The Tenant is responsible for the satisfaction of the following conditions by no later than 24 months after the date of this document.

၂.၃ မြေငှားသည် ဤသဘောတူစာချုပ် ချုပ်ဆိုပြီး (၂၄) လထက် နောက်မကျစေဘဲ အောက်ဖော်ပြပါ စည်းကမ်းချက်များကို စိတ်ကျေနပ်ဖွယ်ကောင်းအောင် ဆောင်ရွက်ပေးရန် တာဝန်ရှိသည်။

(a) Obtaining the approval of the MIC for the execution of this document and the grant of the Lease under this document pursuant to either a Permit or Endorsement (within the meaning of those terms under the MIL) issued by the MIC under the MIL.

(က) မြန်မာ့ရင်းနှီးမြှုပ်နှံမှုဥပဒေအရ မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်က ထုတ်ပေးသည့် ခွင့်ပြုမိန့် သို့မဟုတ် အတည်ပြုမိန့် ( မြန်မာ့ရင်းနှီးမြှုပ်နှံမှုဥပဒေပါ ယင်းစကားရပ်များ၏ ဆိုလိုရင်းအဓိပ္ပါယ်အတိုင်း) နှင့်အညီ ဤသဘောတူစာချုပ် ချုပ်ဆိုရန်နှင့် မြေငှားရမ်းခြင်း ဖြစ်မြောက်စေရန် မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်ထံမှ ခွင့်ပြုချက်ရယူခြင်း၊

(b) Subject to clause 2.4(c), completing legal due diligence inquiries in respect of the Leased Land, with the results of such due diligence being satisfactory to the Tenant, in it sole discretion.

ပဲခူးတိုင်းဒေသကြီး အစိုးရအဖွဲ့ထံမှ ရရှိသည့်သက်သေအထောက်အထားများကို မြေငှား က ထိုက်သင့်စွာ စိတ်ကျေနပ်မှု ရှိစေရေးအတွက် တင်ပြခြင်း

(c) Providing to the Tenant all:

(ဂ) ငှားရမ်းထားသည့်မြေနှင့် ပတ်သက်၍ မြေငှားသည် တရားဝင်မေးမြန်းစုံစမ်းခြင်း (Legal Due Deligence Inquiries) ပြုလုပ်ရာတွင် လိုအပ်မည်ဖြစ်ရာ မြေငှားအား အောက်ပါအချက်များ အားလုံးကို ပေးခြင်း

(i) physical access to the Leased Land;

(၁) ငှားရမ်းထားသည့် မြေသို့ လူကိုယ်တိုင်သွားရောက်ခွင့်

(ii) copies of documents and access to inspect original versions of such copy documents; and

(၂) စာရွက်စာတမ်းများ၏ မိတ္တူများနှင့် အဆိုပါမိတ္တူစာရွက်စာတမ်းများ၏ မူရင်းစာရွက်များကို စစ်ဆေးခွင့်၊ နှင့်

(iii) other assistance, including in relation to liaising with Government Authorities,

as the Tenant may reasonably require in order to undertake legal due diligence inquiries in respect of the Leased Land.

(၃) အစိုးရအာဏာပိုင်များနှင့် ချိတ်ဆက်ပေးခြင်းအပါအဝင်အခြားအကူအညီများ ပေးခြင်း

(d) Providing to the Tenant a copy of a valid and subsisting land grant issued by the Bago Township Land Management and Records Department (or its relevant agency or department) to the Landlord comprising the whole area of the Leased Land for a period of at least 60 years and on terms that permit the leasing of the Leased Land, including to foreign-owned entities and use of the Leased Land for purposes sufficiently broad to permit the Business to be conducted by the Tenant on the Leased Land.

(ဃ) ငှားရမ်းထားသည့်မြေဧရိယာတစ်ခုလုံးအတွက် အနည်းဆုံးအနှစ် (၆၀) ပိုင်ဆိုင်ပြီး နိုင်ငံခြားသား(ကုမ္ပဏီ/အဖွဲ့အစည်း) အားငှားရမ်းထားသည့် မြေအားငှားရမ်းခွင့် နှင် ့ ငှားရမ်းထားသည့် မြေပေါ်တွင် မြေငှားမှ လုပ်ငန်းလုပ်ကိုင်ရန် ရည်ရွယ်ချက်ဖြင့်အသုံးပြုရန် ခွင့်ပြုသည့်စည်းကမ်းချက်များ ပါရှိသည့်ပဲခူး မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးန ှင့်စာရင်းအင်း

ဌာနမှ (သို့မဟုတ်သက်ဆိုင်ရာအေဂျင်စီ သို့မဟုတ် ဌာန) က ထုတ်ပေးထားသော တရားဝင်လက်ရှိမြေဂရန် မိတ္တူ (၁) စုံကို မြေငှားအား ပေးအပ်ခြင်း။

**Failure to satisfy Conditions Precedent**

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များနှင့် စပ်လျဉ်း၍ စိတ်ကျေနပ်မှုရှိအောင် ဆောင်ရွက်ရန် ပျက်ကွက်ခြင်း**

2.5 If all Conditions Precedent are not satisfied in accordance with clauses 2.3 and 2.4, or otherwise waived, within 24 months after the date of this document, or such longer period as the parties may agree (in writing), or if any party gives notice to the other parties that the conditions of a Conditions Precedent are unacceptable to it, then any party may terminate this document by notice to all other parties effective immediately.

၂.၅ အကယ်၍ ကြိုတင်ရှိထားရမည့် စ ည်းကမ်းချက် အားလုံးနှင့် စပ်လျဉ်း၍ အပိုဒ် ၂ .၃ ၊ ၂.၄ တို့နှင့် အညီ စိတ်ကျေနပ်မှုမရှိပါက သို့တည်းမဟုတ် အခြားနည်းဖြင့် စွန့်လွှတ်ပါက စာချုပ်ချုပ်ဆိုပြီး (၂၄) လ သို့မဟုတ် စာချုပ်ဝင်များက (စာဖြင့် ရေးသား၍ ) သဘောတူညီထားသည့် ထို့ထက် ပိုမိုရှည်ကြာသည့် ကာလအတွင်း သို့မဟုတ် အကယ်၍ တစ်ဖက်စာချုပ်ဝင်သည် အကြောင်းကြားစာ ပေးပို့၍ အခြားစာချုပ်ဝင်အား ကြိုတင်ရှိထားရမည့် အခြေအနေများပါ စည်းကမ်းချက်တစ်ရပ်သည် လက်ခံနိုင်ဖွယ်ရာ မရှိကြောင်း ပြောဆိုလာပါက မည်သည့်စာချုပ်ဝင်မဆို တစ်ဖက်စာချုပ်ဝင်များအား အကြောင်းကြားစာ ပေးပို့၍ ဤသဘောတူစာချုပ်ကို ချက်ချင်းရပ်စဲနိုင်သည်။

**Consequence of failure to satisfy Conditions Precedent**

**ကြိုတင်စည်းကမ်းသတ်မှတ်ချက်များကို စိတ်ကျေနပ်မှုရှိအောင် ဆောင်ရွက်ရန် ပျက်ကွက်ခြင်း၏ နောက်ဆက်တွဲရလဒ်**

2.6 If this document is terminated under clause2.5:

၂.၆ အကယ်၍ ဤသဘောတူစာချုပ်ကို အပိုဒ် ၂.၅ အရ ရပ်စဲပါက -

(a) the Confirming Party must repay to the Tenant in full all amounts of the Rent already paid by the Tenant to the Confirming Party within 10 working days following the date on which such termination takes effect:

(က) အတည်ပြုပေးသူစာချုပ်ဝင်သည် သဘောတူစာချုပ်အား ထိုကဲ့သို့ ရပ်စဲပြီးနောက် အလုပ်လုပ်ရက် (၁၀) ရက်အတွင်း မြေငှားက အတည်ပြုပေးသူအား ပေးထားပြီးဖြစ်သည့် ငှားရမ်းခကို မြေငှားအား အပြေအကျေ ပြန်လည်ပေးအပ်ရမည်။

(b) such termination will not affect any rights or remedies that have accrued to any party prior to the time at which such termination takes effect and such termination will take effect without prejudice to each party's right to institute legal proceedings seeking damages or any other remedy available in law or equity in respect of the termination itself and the circumstances giving rise to such termination; and

(ခ) ယင်းသဘောတူစာချုပ်ရပ်စဲခြင်းသည် စာချုပ်ရပ်စဲခြင်း အကျိုးမသက်ရောက်မီ မည်သည့် စာချုပ်ဝင်ကမဆို ရရှိထားပြီးဖြစ်သည့် အခွင့်အရေးများ သို့မဟုတ် ကုစားမှုများကို မထိခိုက်စေရ။ယင်းစာချုပ်ဖျက်သိမ်းခြင်းသည် စာချုပ်ဖျက်သိမ်းခြင်းကိုယ်တိုင်ကြောင့် သို့မဟုတ် စာချုပ်ဖျက်သိမ်းခြင်းကြောင့် ပေါ်ပေါက်လာသည့် အခြေအနေ များနှင့် စပ်လျဉ်း၍ စာချုပ်ဝင်တစ်ဖက်ဖက်၏နစ်နာကြေးတောင်းဆိုပိုင်ခွင့် နှင့်အခြားဥပဒေအရ ကုစားခွင့်များ တောင်းဆိုခြင်းကို ထိခိုက်မှု မရှိစေပဲ အကျိုးသက်ရောက်စေရမည်။

(c) each party will be released from all further obligations under this document and no party will have any claim against any other party as a consequence of the termination.

(ဂ) စာချုပ်ဝင်များသည် ဤသဘောတူစာချုပ်အရ ထပ်မံဆောင်ရွက်ရမည့် ဝတ္တရားအလုံးစုံမှ ကင်းလွတ်ခွင့်ရကြ၍မည်သည့်စာချုပ်ဝင်ကမှ စာချုပ်ရပ်စဲခြင်းကို အကြောင်းပြု၍ တစ်ဖက်စာချုပ်ဝင်ထံမှ မည်သည့်နစ်နာကြေးမှ တောင်းဆိုခွင့် မရှိစေရ။

## 3. Lease

## ၃. မြေငှားရမ်းခြင်း

### Grant of Lease

### မြေငှားရမ်းမှုကို ခွင့်ပြုခြင်း

3.1 The Landlord lets to the Tenant and the Tenant takes a lease of the entire area comprised within the Leased Land for the Lease Period at the Rent and subject to the terms and conditions set out in this document.

၃.၁ ဤသဘောတူစာချုပ်တွင် ဖော်ပြထားသည့် စည်းမျဉ်းစည်းကမ်းများနှင့်အညီ မြေရှင်သည် မြေငှားအား မြေငှားရမ်းခွင့်ပြုပြီး ၊ မြေငှားကလည်း ငှားရမ်းသည့် မြေတွင် ပါဝင်သည့် ဧရိယာတစ်ခုလုံးကို ငှားရမ်းသည့် မြေငှားရမ်းခဖြင့် ငှားရမ်းပါသည်။

3.2 The Landlord acknowledges and agrees that the rights granted to the Tenant under the Lease of the Leased Land include the right to drill boreholes and to construct bores or wells for the pumping and use of groundwater and the right to install photovoltaic solar panels and related electricity generation and transmission equipment for use in conjunction with the Business, all in accordance with the relevant government authorities' approvals.

၃.၂ မြေငှားရမ်းခြင်းသဘောတူစာချုပ်အရ ငှားရ မ်းထားသည့် မြေနှင့် ပတ်သက်၍ မြေရှင်က မြေငှားအား ပေးအပ်ထားသည့် အခွင့်အရေးများတွင် သက်ဆိုင်ရာအစိုးရအာဏာပိုင်များ၏ ခွင့်ပြုချက်များနှင့် အညီ ဘိုးပိုင်တွင်းများတူးခွင့် ၊ ရေစုပ်တင်ရန်နှင့် မြေအောက်ရေအသုံးပြုရန်အတွက် ဘိုးပိုင်တွင်းများ သို့မဟုတ် ရေတွင်းများတူးခွင့် ၊ စီးပွားရေးလုပ်ငန်းများတွင် အသုံးပြုရန် photovoltaic ဆိုလာပြားများနှင့် လျှပ်စစ်ထုတ်လုပ်ခြင်းနှင့် ပို့လွှတ်ခြင်းဆိုင်ရာကိရိယာများ တပ်ဆင်ခွင့်တို့ ပါဝင်ကြောင်း မြေရှင်က သိရှိနားလည် သဘောတူပါသည်။

**Term of Lease and extension**

**မြေငှားရမ်းခြင်းသဘောတူစာချုပ်သက်တမ်းနှင့် သက်တမ်းတိုးခြင်း**

3.3 The Lease will be deemed to have commenced on the Commencement Date and continue for a term of 50years unless extended under clause 3.4or terminated in accordance with this document.

၃.၃ အပိုဒ် ၃.၄ အရ သက်တမ်းတိုးခြင်းနှင့် ဤသဘောတူစာချုပ်နှင့် အညီ ရပ်စဲခြင်းမှ လွဲ၍ ဤမြေငှားရမ်းခြင်းသဘောတူစာချုပ်သည် စတင်ချုပ်ဆိုသည့် နေ့မှ နောင်နှစ်ပေါင်း (၅၀) အထိ အကျိုးသက်ရောက်မှု ရှိသည်ဟု မှတ်ယူရမည်။

3.4 Unless the Tenant informs the Landlord in writing at least three calendar months before the expiry of the:

၃.၄ မြေငှားသည် မြေရှင်ကို ကနဦးမြေငှားရမ်းခြင်းသဘောတူစာချုပ်သက်တမ်းမကုန်မီ ပြက္ခဒိန်လ အနည်းဆုံး (၃) လ မတိုင်မီ ကနဦးမြေငှားရမ်းခြင်းသဘောတူစာချုပ်အား သက်တမ်းတိုးရန် ဆန္ဒမရှိကြောင်း စာဖြင့် အကြောင်းမကြားပါက ယခင်က သတ်မှတ်ထားသည့် စည်းကမ်းချက်များအတိုင်းပင် -

(a) Initial Lease Period that the Tenant does not wish to extend the Lease, then at the expiry of the Initial Lease Period the Lease Period will automatically be extended for another 10 years(**First Extended Lease Period**); and

(က) မြေငှားရမ်းခြင်းသဘောတူစာချုပ်သက်တမ်းသည် နောက်ထပ် (၁၀)နှစ် (မြေငှားရမ်းခြင်းသဘောတူစာချုပ် ပထမအကြိမ်သက်တမ်းတိုးခြင်း) အလိုအလျောက်တိုးပြီး ဖြစ်စေရမည်။

(b) First Extended Lease Period that the Tenant does not wish to extend the Lease, then at the expiry of the First Extended Lease Period the Lease Period will automatically be extended for another 10 years (**Second Extended Lease Period**),

(ခ) ပထမအကြိမ်စာချုပ်သက်တမ်းတိုးပြီးနောက် မြေငှားသည် မြေငှားရ မ်းခြင်းသဘော တူ စာချုပ်ကို သက်တမ်းတိုးရန် ဆန္ဒမရှိကြောင်း အကြောင်းမကြားပါက ပထမ အကြိမ် စာချုပ်သက်တမ်း ကုန်ဆုံးပြီးနောက် နောက်ထပ် (၁၀)နှစ် (မြေငှားရမ်းခြင်းသဘောတူစာချုပ် ဒုတိယအကြိမ်သက်တမ်းတိုးခြင်း) အလိုအလျောက် တိုးပြီး ဖြစ်စေရမည်။

(c) on the terms of this document (and in each case with no requirement for the Tenant to pay any additional Rent in consequence of the total Rent for the entire Lease Period having been pre-paid under clause 4.2).

(ဂ) ငှားရမ်းသည့် ကာလအတွင်း (ထို့ပြင် အပိုဒ် ၄.၂ အရ ငှားရမ်းသည့်ကာလ တစ်ခုလုံးအတွက် စုစုပေါင်းငှားရမ်းခအား ကြိုတင်ပေးထားပြီးဖြစ်သဖြင့် မြေငှားသ ည် သက်တမ်းတိုးသည့် အကြိမ်တိုင်းအတွက် အပိုဆောင်းငှားရမ်းခကို ထပ်မံပေးရန် မလိုအပ်ပါ။

## 4. Rent and other payments

## ၄. ငှားရမ်းခနှင့် အခြားပေးချေငွေများ

### Rent

### ငှားရမ်းခ

4.1 The Landlord appoints the Confirming Party as its agent for the receipt of all payments of Rent, and any other payments due from the Tenant to the Landlord under this document (if any). The Landlord acknowledges and agrees that payment by the Tenant to the Confirming Party will constitute full discharge and satisfaction of the relevant payment obligation.

၄.၁ ငှားရမ်းခပေးချေငွေများနှင့် ဤစာချုပ်အရ မြေငှားက မြေရှင်အား ပေးရမည့် အခြားပေးချေငွေများ (အကယ်၍ ရှိပါက) အားလုံးကို လက်ခံရယူရန်အတွက် မြေရှင်သည် အတည်ပြုပေးသူစာချုပ်ဝင်ကို ယင်း၏ ကိုယ်စားလှယ်အဖြစ် ခန့်အပ်ပါသည်။ မြေငှားက အတည်ပြုသူစာချုပ်ဝင်အား ငွေပေးချေလျှင် ငွေပေးချေမှုဆိုင်ရာ ဝတ္တရားကို အပြည့်အဝဆောင်ရွက်ပြီးဖြစ်ကြောင်းနှင့် သက်ဆိုင်ရာငွေပေးချေမှု တာဝန်နှင့် ပတ်သက်၍ စိတ်ကျေနပ်ဖွယ်ရှိကြောင်း မြေရှင်က အသိအမှတ်ပြုသဘောတူပါသည်။

4.2 In consideration of the grant of the Lease, the Tenant will pay to the Confirming Party (as agent for the Landlord) a total Rent for the Leased Land for the entire Lease Period Lease (50 years) MMK 890,000,000 ( in word Eight Hundred and ninety million MMK). The Tenant will pay the Rent to the Confirming Party in accordance with clauses 4.3 to 4.6.

၄.၂ မြေငှားရမ်းခွင့်ပြုခြင်းအတွက် မြေငှားသည် (မြေရှင်၏ ကိုယ်စားလှယ်အဖြစ် ဆောင်ရွက်သူ ) အတည်ပြုပေးသူစာချုပ်ဝင်အားငှားရမ်းထားသောမြေအားငှားရမ်းသည့် နှစ်ပေါင်း (၅၀) အတွက်ငှားရမ်းခ စုစုပေါင်း မြန်မာငွေ ကျပ်၈၉၀,၀၀၀,၀၀၀(စာဖြင့် သိန်းရှစ်ထောင့်ကိုးရာကျပ်တိတိ) ကိုပေးချေရမည်။
မြေငှားက မြေငှားရမ်းခကို အတည်ပြုစာချုပ်ဝင်အား အပိုဒ် ၄.၃ မှ ၄.၆ အထိ နှင့်အညီ ပေးချေရမည်။

4.3 The Rent will be paid by the Tenant to the Confirming Party by instalments in accordance with the following schedule.

၄.၃ မြေငှားက မြေငှားရမ်းခကို အတည်ပြုပေးသူစာချုပ်ဝင်အား အောက်ဖော်ပြပါဇယားနှင့် အညီ အရစ်ကျ ပေးချေရမည်။

| Leased Land size ငှားရမ်းမြေ အကျယ်အဝန်း | Rent per Acre for 50 years (MMK) နှစ်(၅၀) စာအတွက် ၁ ဧက လျှင် ငှားရမ်းခ (MMK) | TotalRent (MMK) ငှားရမ်းခစုစုပေါင်း(MMK) |
|---|---|---|
| 36.52 Acrea | 24,370,208 MMK | 890,000,000 |

| Instalment Amount (MMK) အရစ်ကျပေးချေရမည့် ပမာဏ မြန်မာကျပ် | Percentage of total Rent ငှားရမ်းခစုစုပေါင်း၏ ရာခိုင်နှုန်း | Due date for payment နောက်ဆုံးထား ပေးသွင်းရမည့်နေ့ |
|---|---|---|
| 311,500,000 ၃၁၁,၅၀၀,၀၀၀ | 35% ၃၅ ရာနှုန်း | Due within 10working days after the date of signing of this document by the last party to sign နောက်ဆုံးလက်မှတ်ရေးထိုးရမည့်စာချုပ်ဝင်က သဘောတူစာချုပ်ကိုလက်မှတ်ရေးထိုးပြီးနောက် အလုပ်လုပ်ရက် (၁၀) ရက်အတွင်း |
| 311,500,000 ၃၁၁,၅၀၀,၀၀၀ | 35% ၃၅ ရာနှုန်း | Due within 10working days after the date on which after conversion completing livestock tile of land. အခြားနည်းသုံးစွဲခွင့် ( မွေးမြူရေးလုပ်ငန်းသုံးမြေအမျိုးအစား) ခွင့်ပြုမိန့်ကျ ပြီးနောက် အလုပ်လုပ်ရက် (၁၀) ရက်အတွင်း |
| 267,000,000 ၂၆၇,၀၀၀,၀၀၀ | 30% ၃၀ ရာနှုန်း | Due within 10working days after the date on which Construction petmit receiving from related Department of Bago Regional Government သက်ဆိုင်ရာ ပဲခူးမြို့နယ်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ ( မြို့နယ် စည်ပင်သာယာရေးကော်မတီ အဖွဲ့) အဆောက်အဦးခွင့်ပြုမိန့် ပေးပြီးနောက် အလုပ် လုပ်ရက် (၁၀) ရက်အတွင်း |

The Tenant will make payment of instalments of the Rent under clause 4.3 in MMK by bank transfer or deposit into Confirming Party's bank account in Myanmar (as nominated in writing by the Confirming Party to the Tenant, including all details reasonably required for a transfer to such account).

၄.၄ မြေငှားသည် အပိုဒ် ၄.၃ အရ မြေငှားရမ်းခ အရစ်ကျပေးချေငွေများကို မြန်မာကျပ်ငွေဖြင့်ဘဏ်ငွေလွှဲစနစ်အသုံးပြုကာ သို့မဟုတ် (အ ဆိုပါဘဏ်စာရင်းသို့ ငွေလွှဲရန် လိုအပ်သည့် အချက်အလက်များအားလုံး အပါအဝင်အတည်ပြုပေးသည့်စာချုပ်ဝင်က မြေငှားအားစာဖြင့် အကြောင်းကြားသည့်အတိုင်း) ကြိုတင်ငွေကိုအတည်ပြုသည့်စာချုပ်ဝင်၏ မြန်မာနိုင်ငံရှိဘဏ်စာရင်းထဲသို့ထည့်ခြင်းအားဖြင့်ပေး ချေရမည်။

**Other payments**

**အခြားပေးချေငွေများ**

4.4 During the Lease Period, the Tenant agrees to make the following payments, immediately they become due:

၄.၅ မြေငှားရမ်းသည့်ကာလအတွင်း မြေငှားသည် ပေးချေရမည့်နေ့ ရောက်သည်နှင့် တစ်ပြိုင်နက် အောက်ဖော်ပြပါငွေများကို ချက်ချင်းပေးချေရန် သဘောတူပါသည်။

(a) all periodic rates and taxes applicable to the Leased Land, which will be paid to the relevant Government Authority; and

(က) သက်ဆိုင်ရာအစိုးရအာဏာပိုင်အဖွဲ့အစည်းထံသို့ ပေးသွင်းရမည့် ငှားရမ်းထားသည့် မြေနှင့်သက်ဆိုင်သည့် အခါအားလျော်စွာကောက်ခံသော နှုန်းထားများနှင့် အခွန်များအားလုံး

(b) all charges for the connection of any utility or service to the Leased Land, and for the use of any utility or service at the Leased Land, including electricity, water supply and telecommunications services, which will be paid to the utility or service supplier.

(ခ) လျှပ်စစ်မီး ၊ ရေနှင့် ဆက်သွယ်ရေးဝန်ဆောင်မှုများအပါအဝင် အများပြည်သူဝန်ဆောင်မှုများ အား ငှားရမ်းထားသည့် မြေသို့ သွယ်တန်းခြင်း သို့မဟုတ် ငှားရမ်းထားသည့် မြေတွင် အသုံးပြုခြင်းအတွက် ကျသင့်သည့် ငွေများကို သက်ဆိုင်ရာအများပြည်သူဝန်ဆောင်မှု ပံ့ပိုးသည့် ဌာနများသို့ ပေးသွင်းရမည်။

## 5. Tenant's positive obligations

## ၅. မြေငှား၏ တာဝန်များ

5.1 The Tenant agrees and undertakes that it will:

၅.၁ မြေငှားသည် အောက်ပါတို့ကိုဆောင်ရွက်ရန် သဘောတူပါသည်။

(a) unless otherwise agreed in writing by the Landlord, only use the Leased Land for the purposes of the Business and commence the Business on the Leased Land within 24 months after the Commencement Date;

(က) မြေရှင်က စာဖြင့် ရေးသား၍ အခြားနည်းဖြင့် သဘောတူထားခြင်း မရှိပါက ငှားရမ်းထားသည့် မြေကို စီးပွားရေးလုပ်ငန်းများအတွက်သာ အသုံးပြုရန်နှင့် ငှားရ မ်းထားသည့် မြေပေါ်တွင် စီးပွားရေးလုပ်ငန်းများကို စတင်အကျိုးသက်ရောက်သည့်နေ့မှ (၂၄) လအတွင်း စတင်ရန်၊

(b) give the Landlord a copy of any notice from a Government Authority concerning the Leased Land reasonably promptly after the Tenant receives it;

(ဂ) အစိုးရအာဏာပိုင်အဖွဲ့ အစည်းတစ်ခုထံမှ ငှားရမ်းထားသည့်မြေနှင့် ပတ်သက်သည့် မည်သည့်အကြောင်းကြားစာကိုမဆို မြေငှားမှ ရရှိပါက မြေရှင်အားယင်းအကြောင်းကြားစာ၏ မိတ္တူတစ်စုံကို ဆောလျင်စွာပေးရန်၊

(c) promptly notify the Landlord of any entry or encroachment on the Leased Land by a third party that could reasonably affect the Business or result in a right being acquired by that person or result in some right of the Landlord being reduced;

(ဃ) တတိယအုပ်စုက ငှားရမ်းထားသည့် မြေသို့ ဝင်လာပြီး သို့ မဟုတ် ကျူးကျော်လာပြီး ယင်းသို့ကျူးကျော်ဝင်ရောက်မှုကြောင့် စီးပွားရေးလုပ်ငန်းကို ထိခိုက်စေနိုင်လျှင် သို့မဟုတ် ယင်းပုဂ္ဂိုလ်က အ ခွင့်အရေးတစ်ခုရရှိသွားလျှင် သို့မဟုတ် မြေရှင်၏ အခွင့်အရေးအချို့ ဆုံးရှုံးစေနိုင်လျှင် မြေရှင်ကို ချက်ချင်းအကြောင်းကြားပေးရန်၊

(d) comply with all applicable laws on health, safety and environmental protection applicable to the Business and all applicable laws regulating how the Leased Land is used;

(c) စီးပွားရေးလုပ်ငန်းနှင့် သက်ဆိုင်သော ကျန်းမာရေး ၊ လုံခြုံရေး ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးတို့နှင့် ပတ်သက်၍သက်ဆိုင်သောဥပဒေများအားလုံး၊ ငှားရမ်းထားသည့်မြေ ကို မည်သို့မည်ပုံအသုံးပြုသည်နှင့် ပတ်သက်သည့် သက်ဆိုင်သောဥပဒေများအားလုံးကို လိုက်နာရန်၊

(e) acquire all approvals and licenses required for the Business under applicable law; and

(စ) ဥပဒေအရစီးပွားရေးလုပ်ငန်းအတွက် လိုအပ်သော ခွင့်ပြုချက်များ၊ လိုင်စင်များ အားလုံးကို ရယူထားရန်၊

(f) maintain the Leased Land in good and tenantable condition, subject to the reasonable requirements of the Business, and use reasonable endeavours to ensure that the possession of the Leased Land is provided to the Landlord following the expiry or early termination of the Lease Period.

(ဆ) စီးပွားရေးလုပ်ငန်း၏ လိုအပ်ချက်ပေါ်မူတည်၍ငှားရမ်းထားသောမြေကို အခြေအနေ ကောင်းမွန် နေစေရန်၊ဆက်လက်ငှားရမ်းနိုင်စေရန်အတွက် ထိန်းသိမ်းရန်၊ ငှားရမ်းသည့်ကာ လ ကုန်ဆုံးချိန် သို့မဟုတ် ငှားရမ်းသည့်ကာလ မပြည့်မီ ရပ်စဲပြီးချိန်တွင်ငှားရမ်းထားသည် ့ မြေ ပိုင်ဆိုင်မှုကို မြေရှင်အား ပြန်လည်လွှဲပြောင်းပေးရန်၊

## 6. Restrictions on Tenant

## ၆. မြေငှားအပေါ် ကန့်သတ်မှုများ

6.1 The Tenant agrees and undertakes that it will not use the Leased Land for any activity which is dangerous, offensive, noxious or illegal, or which is or is reasonably likely to become a nuisance to the Landlord or to the owner or occupier of any neighbouring land.

၆.၁ ဘေးအန္တရာယ်ဖြစ်စေသော၊ ရိုင်းပျသော၊ ဘေးဥပါဒ်ဖြစ်စေသော သို့မဟုတ် ဥပဒေနှင့် ဆန့်ကျင်သော အပြုအမူများ သို့မဟုတ် အနီးအနားရှိ မြေပိုင်ရှင် သို့မဟုတ် ပိုင်ရှင် သို့မဟုတ် ငှားရမ်းနေထိုင်သူကို စိတ်အနှောင့်အယှက်ဖြစ်စေသော အပြုအမူများကို ငှားရမ်းထားသည့် မြေပေါ်တွင် မပြုလုပ်ရန် သဘောတူပါသည်။

6.2 The Tenant acknowledges and agrees that the grant of the Lease under this document does not include any rights to mineral deposits, gemstones, coal, petroleum and other natural resources, as well as buried treasure and gems, occurring in, under or within the Leased Land.

၆.၂ ဤသဘောတူစာချုပ်အရ မြေငှားရမ်းခွင့်ပြုရာတွင် ငှားရမ်းထားသည့် မြေ၏ မြေပေါ် မြေအောက်ရှိ သတ္တုသိုက်များ၊ ကျောက်မျက်ရတနာများ ၊ ကျောက်မီးသွေး၊ ရေနံနှင့် အခြားသဘာဝအရင်းအမြစ်များ၊ မြှုပ်နှံထားသော၊ ကျောက်မျက်ရတနာများ မပါဝင်ကြောင်း မြေငှားက သိရှိသဘောတူပါသည်။

## 7. Rights of the Tenant

## ၇. မြေငှား၏ အခွင့်အရေးများ

7.1 The Tenant will have the right to:

၇.၁ မြေငှားတွင် အောက်ပါအခွင့်အရေးများရှိသည်။

(a) assign, sublet, charge, part with or share possession or occupation of the whole or any part of the assets invested on at the Leased Land (including the granting of any security interests or the making of assignments to lenders), except for the land itself, provided that the Tenant:

(က) မြေငှားသည် အောက်ပါတို့ကိုလုပ်ဆောင်လျှင် ငှားရမ်းထားသည့် မြေမှ လွဲ၍ (ငွေချေးစားသူများထံတွင် အာမခံပစ္စည်းအဖြစ် ထားခြင်း သို့မဟုတ် လွှဲပြောင်းပေးအပ်ခြင်း အပါအဝင်) ငှားရမ်းထားသည့် မြေပေါ်တွင် ရင်းနှီးထားသည့် အခြေပစ္စည်းများ၏ အလုံးစုံကို သို့မဟုတ် တစ်စိတ်တစ်ဒေသကို လွှဲပြောင်းခန့်အပ်ခြင်း ၊ ထပ်ဆင့်ငှားရမ်းခြင်း ၊ တာဝန်ပေးခြင်း ၊ လက်ဆင့်ကမ်းခြင်း သို့မဟုတ် ခွဲဝေခြင်းတို့ ပြုလုပ်နိုင်သည်။

(i) gives the Landlord reasonable prior written notice; and

(၁) မြေရှင်အား ကျိုးကြောင်းဆီလျော်စွာ စာဖြင့် ကြိုတင်အကြောင်းကြားခြင်း

(ii) makes sure that the person who is the beneficiary of such action:

(၂) ယင်းလုပ်ငန်း၏ အကျိုးခံစားခွင့်ရှိသူသည်-

A. holds a valid and subsisting right to do so under applicable law; and

က။ သက်ဆိုင်ရာဥပဒေအရ ယင်းသို့ပြုလုပ်ရန် တရားဝင် ၊ လက်ရှိအခွင့်အရေး ရရှိထားလျှင်

B. complies with all the terms of this document, similarly as the Tenant;

ခ။ မြေငှားနှင့် အလားတူ ဤသဘောတူစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအားလုံးကိုလိုက်နာလျှင်

(b) mortgage, charge or create security over all of its right, title and interest in and to any of the buildings on the Leased Land;

(ခ) ငှားရမ်းထားသည့် မြေကွက်ပေါ်ရှိ အဆောက်အအုံများ၏ အားလုံးသော ၎င်း၏ အခွင့်အရေး ၊ လုပ်ပိုင်ခွင့်နှင့် အာမခံကို အပေါင်ထားခြင်း ၊ တာဝန်ပေးခြင်း သို့မဟုတ် လုံခြုံမှုအာမခံချက်ထားနိုင်သည်။

(c) peacefully and exclusively use the Leased Land during the Lease Period without interference by the Landlord, any parties affiliated with the Landlord, or any third parties;

(ဂ) မြေရှင်၊ မြေရှင်နှင့် ပူးပေါင်းထားသည့် အဖွဲ့အစည်းများ သို့မဟုတ် တတိယအုပ်စု ကြားဝင်စွက်ဖက်မှုမပါရှိဘဲ ငှားရမ်းသည့် ကာလအတွင်း ငှားရမ်းထားသည့် မြေကို ငြိမ်းချမ်းစွာ ၊ လွတ်လပ်စွာ အသုံးပြုခွင့်ရှိသည်။

(d) grant access, use and possession of the Leased Land to its contractors and sub-contractors for the purposes of the Business;

(ဃ) စီးပွားရေးလုပ်ငန်းနှင့် စပ်လျဥ်း၍ ၎င်း၏ ကန်ထရိုက်တာများ ၊ လက်ခွဲကန်ထရိုက်တာများအား ငှားရမ်းထားသည့် မြေသို့ ဝင်ရောက်ခွင့် ၊ အသုံးပြုခွင့်နှင့် ပိုင်ဆိုင်ခွင့်ပြုနိုင်သည်။

(e) carry out preparatory activities for construction of the Business, including technical surveying and land-levelling activities, on the on the Leased Land prior to receipt by the Tenant of required permits and authorisations from relevant Government Authorities for the full construction of the Business and its facilities, provided that the undertaking of such preparatory activities does not (in and of itself) require permits or authorisations. All in accordance with relevant government authorities' approvals, if any;

(င) ငှားရမ်းထားသည့် မြေတွင် နည်းပညာဆိုင်ရာ ကွင်းဆင်းလေ့လာမှုပြုလုပ်ခြင်း ၊ မြေညှိခြင်းတို့ အပါအဝင် စီးပွားရေးလုပ်ငန်း ဖော်ဆောင်ရာတွင် ကြိုတ င်ပြင်ဆင်မှုများ ပြုလုပ်ရန် ပါမစ်နှင့် ခွင့်ပြုမိန့်များ ရယူရန် မလိုအပ်ပါက စီးပွားရေးလုပ်ငန်း အပြည့်အဝဖော်ဆောင်ရန်နှင့် လိုအပ်သည့် အဆောက်အအုံများ တည်ဆောက်ရန် သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှ ပါမစ်နှင့် ခွင့်ပြုမိန့်များ မရ မီ ယင်းဆောင်ရွက်မှုများကို ကြိုတင်ဆောင်ရွက်နိုင်သည်။ အစိုးရအာဏာပိုင်များထံမှ ခွင့်ပြုချက် ရယူရန် လိုအပ်ပါက ၎င်းတို့အားလုံးကို ခွင့်ပြုချက်ရယူ၍ ဆောင်ရွက်ရမည်။

(f) cut trees, level small hills and fill in small depressions to level and flatten the surface of the Leased Land and clear away and remove soil, stone, gravel, lumber, overburden, other obstructions and other materials on the Leased Land as necessary for the purposes of the Business, all in accordance with relevant government authorities' approvals, if any; and

(စ) စီးပွားရေးလုပ်ငန်း အကောင်အထည်ဖော်ရန် လိုအပ်သလို ငှားရမ်းထားသည့် မြေပေါ်ရှိ သစ်ပင်များကို ခုတ်လှဲခြင်း ကမူများကို ဖြိုညှိခြင်း ၊ တွင်းများကို မြေဖို့ခြင်း ၊ မြေမျက်နှာပြင်တစ်ခုလုံးကို ညီအောင်ညှိခြင်း ၊ မြေကြီးများ ၊ ကျောက်တုံးများ ၊ ကျောက်စရစ်ခဲများ ၊ သစ်တုံးများ ၊ ဖုံးလွှမ်းနေသည့် မြေသားများအား ဖယ်ရှားခြင်း ၊ အခြားအဟန့်အတားဖြစ်စေသည့် အရာများ ၊ ပ စ္စ ည်းများနှင့် အခြားသောပစ္စည်းများကို ရှင်းလင်းဖယ်ရှားခြင်းတို့ ပြုလုပ်ခွင့်ရှိသည်။ အစိုးရအာဏာပိုင်များထံမှ ခွင့်ပြုချက် ရယူရန် လိုအပ်ပါက ၎င်းတို့အားလုံးကို ခွင့်ပြုချက်ရယူ၍ ဆောင်ရွက်ရမည်။

(g) make any material alterations to the Leased Land with the prior consent of the Landlord, which consent must not be unreasonably withheld or given subject to unreasonable conditions, provided that the proposed alterations comply with

applicable law, hence all in accordance with relevant government authorities' approvals, if any.

(ဆ) ငှားရမ်းထားသည့် မြေပေါ်တွင် ရုပ်ပိုင်းဆိုင်ရာ ပြောင်းလဲပြင်ဆင်မှုများကို မြေရှင်၏ ကြိုတင်ခွင့်ပြုချက်ဖြင့် ပြုလုပ်နိုင်ပြီး အဆိုပြုသည့် ပြောင်းလဲပြင်ဆင်မှုများသည် တည ဆဲဥပဒေနှင့် ညီညွတ်ပါပြီး သက်ဆိုင်ရာအစိုးရအာဏာပိုင်များထံမှ ခွင့်ပြုချက် ရယူရန် လိုအပ်သဖြင့် ရယူပြီးသည့်အခါ အဆိုပါကြိုတင်ခွင့်ပြုချက်ကို ဆိုင်းငံ့ထားခြင်း သို့မဟုတ် လက်ခံနိုင်ဖွယ်ရာမရှိသော စည်းကမ်းများ ထုတ်ခြင်းတို့ မပြုလုပ်ရပါ။

---

## 8. Landlord's positive obligations

## ၈. မြေရှင်၏ တာဝန်များ

8.1 The Landlord and the Confirming Party agree and undertake that they will:

၈.၁ မြေရှင်နှင့် အတည်ပြုပေးသူစာချုပ်ဝင်တို့သည် အောက်ပါတို့ကို ပြုလုပ်ပေးရန် သဘောတူပါသည်။

(a) provide such information and assistance as the Tenant requires in relation to:

(က) အောက်ပါတို့နှင့် စပ်လျဉ်း၍ မြေငှားလိုအပ်သည့်အတိုင်း သတင်းအချက်အလက်များနှင့် အကူအညီ ပေးပါမည်။

(i) the registration of this document as required by applicable law, for which the Lessor ၏ fully responsible, both in terms of process and in terms of bearing all the costs related to getting the registration done. The Tenant will support the Lessor as much as possible during the process, whenever requested, but is not to be held responsible for any fees or penalties regarding the registration; If registration process is delayed due to the Tenant, the Tenant will pay back costs incurred by the Landlord.

(၁) သက်ဆိုင်ရာဥပဒေအရ လိုအပ်သည့်အတိုင်း ဤစာချုပ်ကို မှတ်ပုံတင်ခြင်းနှင့် ထို သို့ဆောင်ရွက်ရာတွင် မှတ်ပုံတင်ခြင်း ပြီးဆုံးသည်အထိ လုပ်ငန်းစဉ်အဆင့်ဆင့် ဆောင်ရွက်ရန်နှင့် ကုန်ကျစရိတ်အလုံးစုံကိုမြေရှင်မှကျခံရန် တာဝန်ရှိပါသည်။ လုပ်ငန်းစဉ်အဆင့်ဆင့်ဆောင်ရွက်ရာတွင် တောင်းဆိုလာပါက မြေငှားမှ တတ်စွမ်းသရွေ့ ကူညီမည်ဖြစ်သော်လည်း မှတ်ပုံတင်ခြင်းနှင့်

ပတ်သက်၍ ကုန်ကျစရိတ်နှင့် ဒဏ်ကြေးများ ပေးဆောင်ရန် တာဝန်မရှိ စေရပါ။ မြေငှားကူညီရန် နှောင့်နှေးမှုကြောင့် ဒဏ်ကြေးပေးဆောင်ရလျှင် မြေငှားတွင်သာ တာဝန်ရှိပါသည်။

(ii) procuring the connection of any utility or service to the Leased Land reasonably requested by the Tenant in relation to the conduct of the Business, including electricity, water supply and telecommunications, which are all the full responsibility of the Tenant, but Lessor and Confirming Party will support whenever the Tenant would request so;

(၂) မြေငှား၏ တာဝန်အပြည့်အဝဖြစ်သော်လည်း မြေငှားမှ တောင်းဆိုသည့်အခါ မြေရှင်နှင့် အတည်ပြုသူစာချုပ်ဝင်တို့သည် လျှပ်စစ်မီး ၊ ရေနှင့် ဆက်သွယ်ရေးပစ္စည်းများ အပါအဝင် စီးပွားရေးလုပ်ငန်း ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ မြေငှား က အကျိုးသင့်အကြောင်းသင့် တောင်းဆိုသည့် ငှားရမ်းထားသည့် မြေတွင် အများပြည်သူဝန်ဆောင်မှု ရရှိရန် ကူညီပေးမည်။

(iii) the Tenant's caveating or otherwise filing or registering notice of its interests under or in relation to this document against the Leased Land, and its interests in respect of the utilization of roads, electricity, water supply and telecommunications, which are all the full responsibility of the Tenant, but Lessor and Confirming Party will support whenever the Tenant would request so; and

(၃) မြေငှား၏ တာဝန်အပြည့်အဝဖြစ်သော်လည်း မြေ ငှားမှ တောင်းဆိုသည့် အခါ မြေရှင်နှင့် အတည်ပြုသူစာချုပ်ဝင်တို့သည် ငှားရမ်းသည့် မြေနှင့် ပတ်သက်၍သော်လည်းကောင်း ၊ ကားလမ်းများ ၊ လျှပ်စစ်မီး ၊ ရေနှင့် ဆက်သွယ်ရေးပစ္စည်းများ အသုံးပြုခြင်းနှင့် စပ်လျဉ်း၍သော်လည်းကောင်း မြေငှားက ကြိုတင်စဉ်းစားရမည့်အချက်များကို သတိပေးခြင်း သို့တည်းမဟုတ် ၎င်း၏ အကျိုးစီးပွားဆိုင်ရာ အကြောင်းကြားစာကို တင်ပြခြင်း သို့မဟုတ် ကူညီပေးမည်။

(iv) obtaining all permits and authorisations required from any relevant Government Authority in relation to establishing and operating the Business on the Leased Land (including in relation to construction of the Business and its facilities), which are all the full responsibility of the Tenant, but Lessor and Confirming Party will support whenever the Tenant would request so. The Lessor and Confirming Party are only responsible for getting the land granted,

not for any other permits regarding the construction or operation of the Business.

(ဃ) မြေငှား၏ တာဝန်အပြည့်အဝဖြစ်သော်လ ည်း မြေငှားမှ တောင်းဆိုသည့်အခါ မြေရှင်နှင့် အတည်ပြုသူစာချုပ်ဝင်တို့သည် ငှားရမ်းထားသည့် မြေပေါ်တွင် စီးပွားရေးလုပ်ငန်းများ (စီးပွားရေးလုပ်ငန်းနှင့် လုပ်ငန်း အထောက်အကူ ပြုအဆောက်အဦးများတည်ဆောက်ခြင်းအပါအဝင်) ထူထောင်ရန် နှင့် လည်ပတ်ရန်နှင့် စပ်လျဉ်း၍ သက်ဆိုင်ရာ အစိုးရအာဏာပိုင်များထံမှ ပါမစ်များနှင့် ခွင့်ပြုမိန့်များကို ရယူပေးခြင်း မြေရှင်နှင့် အတည်ပြုသူစာချုပ်ဝင်တို့သည် မြေအတွက် ခွင့်ပြုချက် ရယူဆောင်ရွက်ပေးရန်သာ တာဝန်ရှိပြီး စီးပွားရေးလုပ်ငန်း ဖော်ဆောင်ခြင်းနှင့် လုပ်ဆောင်ခြင်းတို့နှင့် ပတ်သက်သည့် အခြားမည်သည့်ခွင့်ပြုမိန့်ပါမစ်ကိုမျှ ရယူဆောင်ရွက်ပေးရန် တာဝန်မရှိပါ။

(b) ensure the Tenant's right to quiet and peaceful enjoyment of the Leased Land for the Lease Period without interference, obstruction or encroachment by the Landlord or any other person, subject to the provisions of this document;

(ခ) ဤစာချုပ်ပါ ပြဋ္ဌာန်းချက်များပေါ်မူတည်၍ မြေရှင် သို့မဟုတ် အခြားသူတစ်ဦးတစ်ယောက် ၏ ကြားဝင်စွက်ဖက်မှု ၊ တားဆီးနှောက်ယှက်မှု ၊ သို့ မဟုတ် ကျူးကျော်ဝင်ရောက်မှုမရှိဘဲ ငှားရမ်းသည့် ကာလအတွင်း ငှားရမ်းထားသည့် မြေကို မြေငှားက အေးချမ်းစွာ စီမံခွင့်ရှိစေရန် ဆောင်ရွက်ပေးခြင်း၊

(c) acknowledge and provide reasonable assistance in relation to the exercise and enforcement of the Tenant's rights under clauses 7.1(a) and 7.1(b); and

(ဂ) အပိုဒ် ၇.၁ (က) နှင့် ၇.၁ (ခ) တို့အရ မြေငှား၏ အခွင့်အရေးများကို ကျင့်သုံးခြင်းရာတွင် အသိအမှတ်ပြု အကူအညီပေးခြင်း

(d) if the Tenant gives a notice to the Landlord under clause 5.1(c), immediately take all reasonable steps to ensure that the entry or encroachment the subject of the notice is remedied and ceased (at the cost of the Landlord and Confirming Party) as soon as reasonably possible after the date of the Tenant's notice.

(ဃ) အကယ်၍ မြေငှားက မြေရှင်အား အပိုဒ် ၅.၁ (ဃ) အရ အကြောင်းကြားစာ ပေးပို့လာပါက ယင်းမြေငှား၏အကြောင်းကြားစာ ရရှိပြီး တတ်နိုင်သမျှ စောလျင်စွာ အကြောင်းကြားစာပါ အခွင့်မရှိဘဲ ဝင်ရောက်မှု သို့မဟုတ် ကျူးကျော်ဝင်ရောက်မှုကို ကုစားရန် ၊ တားမြစ်ရန် လိုအပ်သော အစီအမံများကို (မြေရှင်နှင့် အတည်ပြုပေးသူတို့၏ ကုန်ကျစရိတ်ဖြင့်) ချက်ချင်း ဆောင်ရွက်ပေးခြင်း၊

8.2 The Tenant is a foreign-invested company. As at the date of this document, under Myanmar law the Tenant is not permitted to own interests in land in Myanmar. It may be the case that new law or legislation, or amendments to existing laws or legislation, become effective in Myanmar during the Lease Period that allow the Tenant to directly own interest in land in Myanmar. If that occurs, the Landlord and the Confirming Party will, if requested by the Tenant, use their best endeavours to either:

(a) themselves issue a grant of title to, ot ownership rights in respect of , the Leased land to the Tenant; or

(b) procure that relevant Government Authority issues a grant of title to, or ownership rights in respect of, the Leased land to the Tenant,

subject to the requirements of applicable law and to agreement between the Landlord and the Tenant regarding the termination of this document on the issue of a grant of, or other title to, the Leased Lend to the Tenant. All administrative and legal costs (including any relevant tax costs to change the legal ownership) related to this process will be borne by The Tenant, but there will not be any extra fees to be paid by Tenant to Landlord or Confirming Party to become the legal owner of the Leased Land.

၈.၂ မြေငှားသည် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် တည်ထောင်ထားသည့် ကုမ္ပဏီဖြစ်ပါသည်။ ဤသဘောတူစာချုပ်ချုပ်ဆိုသည့်နေ့တွင် မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေအရ မြေငှားမှ မြန်မာနိုင်ငံတွင် မြေနှင့် သက်ဆိုင်သည့် အကျိုးစီးပွားကိုပိုင်ဆိုင်ခွင့်မရှိပါ။ သို့သော် မြေငှားမှ မြန်မာနိုင်ငံတွင် မြေနှင့် သက်ဆိုင်သည့် အကျိုးစီးပွားကို တိုက်ရိုက်ပိုင်ဆိုင်နိုင်စေမည့်ဥပဒေအသစ် သို့မဟုတ် ဥပဒေပြုမှုအသစ် သို့မဟုတ် လက်ရှိဥပဒေသို့မဟုတ်ဥပဒေပြုမှုအားပြင်ဆင်ချက်သည် ငှားရမ်းသည့် ကာလ အတွင်း မြန်မာနိုင်ငံတွင် ထွက်ပေါ်လာနိုင်ပါသည်။ ထိုသို့ထွက်ပေါ်လာပါက မြေငှား၏ တောင်းဆိုမှုဖြင့် ‚ မြေရှင်နှင့် အတည်ပြုပေးသူစာချုပ်ဝင်တို့သည် တည်ဆဲဥပဒေအရ လိုအပ်ချက်များနှင့် မြေငှားအား ငှားရမ်းထားသည့်

မြေအတွက် မြေငှ ရန်နှင့် အခြားပိုင်ဆိုင်မှုတို့အပေါ် ဤသဘောတူစာချုပ် ဖျက်သိမ်းခြင်းနှင့် စပ်လျဉ်းသည့် သဘောတူညီချက်ပေါ် မူတည်၍

(၁) မြေငှားအား ငှားရမ်းထားသည့် မြေနှင့် စပ်လျဉ်း၍ အမည် သို့မဟုတ် ပိုင်ဆိုင်မှုအခွင့်အရေး အတွက် မြေငှရန်ကို ကိုယ်တိုင်ထုတ်ပေးရမည်။ သို့မဟုတ်

(၂) မြေငှားအား ငှားရမ်းထားသည့် မြေနှင့် စပ်လျဉ်း၍ အမည် သို့မဟုတ် ပိုင်ဆိုင်မှုအခွင့်အရေး အတွက် မြေငှရန်ကို သက်ဆိုင်ရာအစိုးရအာဏာပိုင်မှ ထုတ်ပေးရန် ဆောင်ရွက်ပေးရမည်။

ဤဆောင်ရွက်ချက်နှင့် စပ်လျဉ်း၍ သုံးစွဲသည့် ကုန်ကျစရိတ် (ယင်းတွင် ရောင်းခွန်ပါဝင်သည် ။) ကိုမြေငှားမှ ကျခံရမည်ဖြစ်သော်လည်း ငှားရမ်းသည့် မြေ၏ တရားဝင်ပိုင်ဆိုင်သူဖြစ်လာစေ ရန် မြေငှားမှ မြေရှင်နှင့် အတည်ပြုပေးသူစာချုပ်ဝင်တို့အား အခြားအခကြေးငွေများ ထပ်မံပေးရန် မလိုအပ်စေရပါ။

---

## 9. Restrictions on Landlord

## ၉ မြေရှင်အပေါ် ကန့်သတ်ချက်များ

9.1 The Landlord and the Confirming Party agree and undertake regarding the Leased Land that they will not, and will not permit or authorise any person to:

၉.၁ မြေရှင်နှင့် အတည်ပြုပေးသူစာချုပ်ဝင် တို့သည် ငှားရမ်းသည့် မြေနှင့် စပ်လျဉ်း၍ အောက်ပါတို့ကို မပြုလုပ်ရန် သို့မဟုတ် မည်သူ့ကိုမျှ ပြုလုပ်ခွင့်မပြုရန် သို့မဟုတ် လုပ်ပိုင်ခွင့်မပေးရန် သဘောတူပါသည်။

(a) sell, transfer, assign, lease or dispose of or Encumber any part of either of their interests in or to the Leased Land without the Tenant's prior written concent (which consent may be given or withheld in the Tenant's sole discretion)

(က) မြေငှားထံမှ စာဖြင့်ကြိုတင်ခွင့်ပြုချက် မရရှိဘဲ (ယင်းခွင့်ပြုချက်ကို မြေငှားသည် ကိုယ်ပိုင် ဆုံးဖြတ်ချက်ဖြင့် ဆိုင်းငံ့ထားနိုင်သည် သို့မဟုတ် မပေးဘဲ ထားနိုင်သည်) ငှားရမ်းသည့် မြေနှင့် စပ်လျဉ်းသည့် ၎င်းတို့၏ အကျိုးစီးပွား တစ်စိတ်တစ်ဒေသကို ရောင်းချခြင်း၊ လွှဲပြောင်းခြင်း၊ လွှဲပြောင်းတာဝန်ပေးခြင်း၊ ငှားရမ်းခြင်း သို့မဟုတ် ဖယ်ရှားခြင်း သို့မဟုတ် ဝန်ထုပ်ဝန်ပိုးဖြစ်စေခြင်းတို့ကို မပြုလုပ်ပါ။

(b) obstruct any right of way or any access by or on behalf of the Tenant to the Leased Land.

(ခ) ငှားရမ်းထားသည့် မြေသို့ ဝင်ရောက်ခွင့် သို့မဟုတ် မြေငှားကိုယ်စား ဝင်ရောက်ခွင့်ကို မဟန့်တားရ။

---

## 10. Access for Landlord

10.1 The Tenant will give the Landlord, or anyone authorised by him in writing, reasonable access to the Leased Land for the purposes of:

(a) inspecting the condition of the Leased Land, or how it is being used; and

(b) complying with any statutory obligation,

provided that, as a condition of obtaining such access:

(c) the Landlord must give the Tenant at least seven days' prior written notice, except in an emergency;

(d) the Landlord, any anyone authorised by him, must be accompanied by representatives of the Tenant and must comply with all reasonable health and safety procedures of the Tenant at all times during such access;

(e) each visit must be during normal business hours, except in an emergency; and

(f) the Landlord must promptly make good all damage caused to the Leased Land and any goods on it by its exercising these rights.

## ၁၀။ မြေရှင်အတွက် ဝင်ရောက်ခွင့်

၁၀.၁ မြေငှားသည် မြေရှင် သို့မဟုတ် မြေရှင်က စာဖြင့် လုပ်ပိုင်ခွင့် လွှဲအပ်ထားသောမည်သူ့ကိုမဆို အောက်ပါအကြောင်းကိစ္စများအတွက် ငှားရမ်းထားသည့် မြေသို့ ထိုက်သင့်သော ဝင်ရောက်ခွင့် ပေးရမည်။

(က) ငှားရမ်းထားသည့် မြေ၏ အခြေအနေ သို့မဟုတ် ငှားရမ်းထားသည့် မြေအား အသုံးပြုပုံကို စစ်ဆေးခြင်းနှင့်

(ခ) ပြဋ္ဌာန်းဥပဒေပါ ဝတ္တရားများကို လိုက်နာခြင်း

အထက်ပါအတိုင်း ဝင်ခွင့်ရရှိရန် မြေရှင်သည်

(ဂ) အရေးပေါ်အခြေအနေမှလွဲ၍ မြေငှားကို အနည်းဆုံး (၇) ရက် ကြိုတင်၍ စာဖြင့် အကြောင်းကြားရမည်၊

(ဃ) ဤကဲ့သို့ ဝင်ရောက်စစ်ဆေးရာတွင် မြေငှား၏ ကိုယ်စားလှယ်များသည် မြေရှင် သို့မဟုတ် ၎င်းက စာဖြင့် လုပ်ပိုင်ခွင့် လွှဲအပ်ထားသော မည်သူနှင့်မဆို အတူလိုက်ပါရမည် ဖြစ်ပြီး ကျန်းမာရေးနှင့် ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လုပ်ထုံးလုပ်နည်းများကို အမြဲလိုက်နာ ရမည်။

(င) အရေးပေါ်အခြေအနေမှ လွဲ၍ ပုံမှန်ရုံးချိန်အတွင်းသာ လာရောက်ကြည့်ရှုရမည်။

(စ) မြေရှင်မှ ဖော်ပြပါ လုပ်ပိုင်ခွင့်များကို ကျင့်သုံးခြင်းကြောင့် အငှားချထားသောမြေ သို့မဟုတ် ထိုမြေပေါ်ရှိ ပစ္စည်းများ ထိခိုက်ပျက်စီးလျှင် မြေရှင်သည် ချက်ချင်းပြုပြင်ရမည်။

---

## 11. Force Majeure

For this document, the expression "

## ၁၁။ မလွန်ဆန်နိုင်သော ဖြစ်ရပ်များ

ဤစာချုပ်အတွက်၊ ဖော်ပြချက် "

11.1 A Party affected by a Force Majeure Event must:

(a) promptly notify the other parties giving full particulars of the Force Majeure Event and the probable delay in the performance or observance of this document;

(b) mitigate the effects of the Force Majeure Event using all reasonable precautions and any reasonable alternative measures; and

(c) resume performance of its obligations under this document as soon as practicable after termination or abatement of the Force Majeure Event.

၁၁.၁ စာချုပ်ဝင်တစ်ဦးသည် မလွန်ဆန်နိုင်သော ဖြစ်ရပ်ကြောင့် ထိခိုက်နစ်နာလျှင်

(က) မလွန်ဆန်နိုင်သော ဖြစ်ရပ်နှင့် ဤသဘောတူစာချုပ်အား လိုက်နာရာတွင် သို့မဟုတ် ဆောင်ရွက်ရာတွင် ဖြစ်ပေါ်လာမည့် နှောင့်နှေးကြန့်ကြာမှုတို့နှင့် စပ်လျဉ်း၍ အသေးစိတ် အချက်အလက်များကို တစ်ဖက်စာချုပ်ဝင်အား ချက်ချင်းအသိပေး အကြောင်းကြားပါ။

(ခ) ထိုက်သင့်သည့် ကြိုတင်ကာကွယ်မှုများနှင့် အခြားရွေးချယ်စရာနည်းလမ်းများကို အသုံးပြု၍ မလွန်ဆန်နိုင်သော ဖြစ်ရပ်၏ ဆိုးကျိုးများကို လျော့ပါးအောင် လုပ်ဆောင်ပါ။

(ဂ) မလွန်ဆန်နိုင်သောဖြစ်ရပ် ပြီးဆုံးသည့်အခါ သို့မဟုတ် လျော့ပါးသွားသည့်အခါ ဤသဘောတူစာချုပ်ပါ ဝတ္တရားများကို တတ်နိုင်သမျှ စောလျင်စွာ ပြန်လည်ဖော်ဆောင်ပါ။

11.2 Subject to clause 11.1, the obligations of a party affected by a Force Majeure Event under this document will be suspended (to the extent that performance of such obligations is

